ကုမ္ပဏီအမည် - Asia Pacific Beverages Myanmar Co., Ltd.

လုပ်ငန်း - အရက်မဟုတ်သော အသင့်သောက်သုံးရန် အချိုရည်နှင့် ဖျော်ရည်များ ထုတ်လုပ်ခြင်း၊ ဈေးကွက်ရှာဖွေခြင်း၊ ရောင်းချခြင်းနှင့်ဖြန့်ဖြူးခြင်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၄-၁၂-၂၀၁၅ | | |
| ၂ | PAT တင်ပြခြင်း | ၁၄-၁၂-၂၀၁၅ | | |
| ၃ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၃-၁၂-၂၀၁၅ | | |
| ၄ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၄-၁၂-၂၀၁၅ | ၁၈-၁-၂၀၁၆ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၂၃-၁၂-၂၀၁၅ | ၂-၂-၂၀၁၆ | |
| | (ဂ) ကျန်းမာရေးဝန်ကြီးဌာန | ၂၃-၁၂-၂၀၁၅ | ၂၀-၁-၂၀၁၆ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၂၃-၁၂-၂၀၁၅ | ၁၁-၁-၂၀၁၆ | |
| ၅ | ကုမ္ပဏီ မှပြင်ဆင်ချက် | | | |
| ၆ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( /၂၀၁၆)ကြိမ် မြောက် အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၁၀၉ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Asia Pacific Beverages Myanmar Co., Ltd |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | အရက်မဟုတ်သော အသင့်သောက်သုံးရန် အချိုရည်နှင့် ဖျော်ရည်များ ထုတ်လုပ်ခြင်း၊ ဈေးကွက်ရှာဖွေခြင်း၊ ရောင်းချခြင်းနှင့်ဖြန့်ဖြူးခြင်း |
| တည်နေရာ | - | အကွက်အမှတ်(၁၅၁)၊ ရန်ကုန်စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၁၀.၀၀ million |
| ရောင်းချမည့်စနစ် | - | ပြည်တွင်းရောင်း(၁၀၀%) |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | - | ၇ နှစ် |
| IRR | - | ၂၄ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၉၁၄.၈၀၀ သန်း | ကျပ် ၉၉၉၇.၂ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၃၂၁၂.၄ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၈၄၁၆.၈ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ် ထက် ကျော်ပါက အခွန်ဆေးရ မည့် ဝန်ထမ်း (၂၉၈)ဦး |
| ၈ | CSR (၂ %) | | ကျပ် ၂၃၂.၈၀၀ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၂၉၂ ဦး<br>ပြည်တွင်းလုပ်သား (၂၉၂)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၂၉၁၆.၃၄၈ သန်း | ကျပ် ၂၁၈၆၀.၃၆၅ သန်း |
| | Cost & Benefit | ၁ : ၇ | |



asia pacific mic memo

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Asia Pacific Beverages Myanmar Co., Ltd အရက်မဟုတ်သော အသင့်သောက်သုံးရန် အချိုရည်နှင့် ဖျော်ရည်များ ထုတ်လုပ်ခြင်း၊ ဈေးကွက်ရှာဖွေခြင်း၊ ရောင်းချခြင်းနှင့်ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီ/ကမကထပြုသူ အမည် | - Mr. Enrique Santos Mortinez |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု |
| | | - Asia Pacific Beverages Pte., Ltd. ၉၀% (Incorporated in Singapore) |
| | | - ဦးအောင်မော်သိန်း ၁၀% |
| ၂ | လုပ်ငန်းအမျိုးအစား | - အရက်မဟုတ်သော အသင့်သောက်သုံးရန် အချိုရည်နှင့် ဖျော်ရည်များ ထုတ်လုပ်ခြင်း၊ ဈေးကွက်ရှာဖွေခြင်း၊ ရောင်းချခြင်းနှင့်ဖြန့်ဖြူးခြင်း လုပ်ငန်း |
| ၃ | တည်နေရာ | - အကွက်အမှတ်(၁၅၁)၊ရန်ကုန်စက်မှုဇုန်၊မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေပိုင်ရှင် | - ဦးအောင်မော်သိန်း |
| | မြေအကျယ်အဝန်း | - ၁.၉၈၆ ဧက (၈၀၃၇.၁၆ စတုရန်းမီတာ) |
| ၄ | မြေငှားရမ်းခနှုန်း | - တစ် နှစ် ငှားရမ်းခ အမေရိကန်ဒေါ်လာ ၂၂၈၆၉၀ (တစ်နှစ်တစ်စတုရန်းမီတာလျှင်အမေရိကန်ဒေါ်လာ ၂၈.၅၄) |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် နှင့် ၁၀နှစ် ၂ ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် နှင့် ၁၀နှစ် ၂ ကြိမ် |
| ၅ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၆ | ရင်းနှီးမြှုပ်နှံမှုပမာဏ | - US$ ၁၀.၀၀ သန်း |

( US$ သန်း)

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေပမာဏ | ၁.၀၀ | ၁.၀၄ | ၂.၀၄ |
| စက်ပစ္စည်း | - | ၇.၉၆ | ၇.၉၆ |
| စုစုပေါင်း | ၁.၀၀ | ၉.၀၀ | ၁၀.၀၀ |

| | | |
|---|---|---|
| | ဝန်ထမ်းအင်အား | - ၁၂၈ ဦး |
| | ပြည်တွင်း | - ၁၁၈ ဦး (အမြင့်ဆုံးလစာမှာ USD ၁၀၀၀ ဖြစ်ပြီး အနိမ့်ဆုံး လစာမှာ USD ၁၂၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁၀ ဦး (အမြင့်ဆုံးလစာမှာ USD ၁၁၀၀ ဖြစ်ပြီး အနိမ့်ဆုံး လစာမှာ USD ၅၀၀ ဖြစ်ပါသည်။) |
| ၈ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၉ | ကုမ္ပဏီ၏ဝင်ငွေ (၆ နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၆၆.၅၁ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် | - အမေရိကန်ဒေါ်လာ ၆၂.၈၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - အမေရိကန်ဒေါ်လာ ၃.၆၆ သန်း |
| ၁၀ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဌမမြောက်နှစ်) | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၁.၂၂ သန်း |
| | အရင်းကြေကာလ | - ၇ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - ၂၄% |
| ၁၁ | - လျှပ်စစ်ဓာတ်အားလိုအပ်ချက် (၆ နှစ်မြောက်) | - ၅၃၀၀ MWh |
| ၁၂ | နှစ်စဉ်ထုတ်လုပ်မှု (၆ နှစ်မြောက်) | (see table below) |

| Particulars | Quantity (Number of Cases) | Price (Kyats/ Bottle ) |
|---|---|---|
| Cola carbonated soft drink | ၄၇၆,၁၀၀ | ၂၅၀ |
| Sunkist carbonated soft drink | ၇,၉၆၆,၈၃၅ | ၂၉၀ |
| Cobra energy drinks | ၆၈၆,၄၉၇ | ၂၄၅ |
| Sunkist juice & functional drink | ၁,၇၆၃,၆၂၈ | ၂၃၉ |
| Tea / Dairy drinks | ၁,၄၉၁,၈၉၀ | ၂၄၄ |



asia pacific mic memo

| | | |
|---|---|---|
| ၁၃ | အခြားတင်ပြချက် | -ရင်းနှီးမြှုပ်နှံသူများ ၏ Passport (မိတ္တူ)များ နှင့် နိုင်ငံသား စိစစ်ရေးကဒ် (မိတ္တူ) တို့အား တင်ပြထား ပါသည်။<br>-ငွေကြေးအထောက်အထားအဖြစ် Asia Pacific Beverages Pte.Ltd အမည်ဖြင့် United Overseas Bank(Singapore)တွင် ၁၆.၁၀.၂၀၁၄ရက်နေ့ အထိ အမေရိကန် ဒေါ်လာ ၂၂၀၀၀၆၉.၆၂၊ Asia Brewery Inc အမည်ဖြင့် Phillippine National Bank (Phillippine)တွင် ၇.၇.၂၀၀၈ရက်နေ့ အထိ အမေရိကန် ဒေါ်လာ ၁၀၃၃၉၁၆၇၈၄.၄၆၊ Myanmar Distribution Group Co.,Ltd အမည်ဖြင့် ၃၁.၈.၂၀၁၅ ရက်နေ့အထိအမေရိကန်ဒေါ်လာ၁၀၇၅၀၈၁၆.၉၃ နှင့် Myanmar Distribution Group Co.,Ltd အမည်ဖြင့် ၃၁.၈.၂၀၁၅ ရက်စွဲနေ့အထိ ရိုးမဘဏ်တွင် ကျပ်၇၇၃၀၉၈၃၂.၈၇ ရှိကြောင်း တင်ပြထား ပါသည်။<br>- Asia Pacific Beverages Myanmar Co., Ltd ၏ MOA, AOA တင်ပြ ထားပါသည်။<br>- အလုပ်သမားများ လုပ်ငန်းခွင် ဘေးကင်း လုံခြုံရေး အတွက်ဆောင်ရွက်သွား မည်ဖြစ်ကြောင်း ကတိခံဝန် ချက် တင်ပြထားပါသည်။<br>- မီးဘေးအန္တရာယ် မဖြစ်ပွားရေးအတွက် လိုအပ်သော အစီအမံများ၊မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါ သည်။<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် လုပ်ငန်းခွင် သန့်ရှင်း သာယာရေးစီမံချက်များဖော်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/ န-၁၄၀/၂၀၁၆ ( ၂၆၉ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Asia Pacific Beverages Myanmar Co., Ltd အချိုရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံမှ ဦးအောင်မော်သိန်းမှ (၁၀%)နှင့် စင်ကာပူနိုင်ငံ မှ Asia Pacific Beverages Pte. Ltdမှ (၉၀%) တို့ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Asia Pacific Beverages Myanmar Co., Ltdတည်ထောင်ပြီး အမှတ်(၁၅၁)၊ ရန်ကုန်စက်မှုဇုန်ဝန်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးမှ မြေနှင့်အဆောက်အဦ စုစုပေါင်း ၁.၉၈၆ ဧက (၈၀၃၇.၀၆ စတုရန်းမီတာ) တို့ကို ငှားရမ်း၍ အချိုရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးအောင်မော်သိန်းနှင့် မြေငှားသူ Asia Pacific Beverages Myanmar Co., Ltd တို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်မူကြမ်းကို တင်ပြထား ပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၁.၉၈၆ ဧက (၈၀၃၇.၀၆ စတုရန်းမီတာ) ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်လျှင် ငှားရမ်းခ အမေရိကန်ဒေါ်လာ ၂၂၈၆၉၀ဖြစ်ပါသည်။မြေ ငှားရမ်း သက်တမ်းမှာ ၅၀ နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလတစ်နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၁၀.၀၀သန်းဖြစ်ပြီး အောက်ပါအတိုင်းထည့်ဝင်ထားပါသည်- ( USD သန်း)

| | | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၁.၀၀ | ၁.၀၄၀ | ၂.၀၄၀ |
| (ခ) | စက်ပစ္စည်း | - | ၇.၉၆၀ | ၇.၉၆၀ |
| (ဂ) | **စုစုပေါင်း** | ၁.၀၀ | ၉.၀၀ | ၁၀.၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ( ၂၉၂ ) ဦးနှင့် ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ US$ ၁၂၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်းတွင်(၁၀၀%) ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်တွင်နှစ်စဉ်ဝန်ဆောင်မှုနှင့် ပြည်တွင်းရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | Particulars | Quantity (Number of Cases) | Price (Kyats/Bottle) |
|---|---|---|---|
| (က) | Cola carbonated soft drink | ၄၇၆,၁၀၀ | ၂၅၀ |
| (ခ) | Sunkist carbonated soft drink | ၇,၉၆၆,၈၃၅ | ၂၉၀ |
| (ဂ) | Cobra energy drinks | ၆၈၆,၄၉၇ | ၂၄၅ |
| (ဃ) | Sunkist juice & functional drink | ၁,၇၆၃,၆၂၈ | ၂၃၉ |
| (င) | Tea / Dairy drinks | ၁,၄၉၁,၈၉၀ | ၂၄၄ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေ နှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - - အမေရိကန်ဒေါ်လာ ၆၆.၅၁ သန်း

(ခ) အသုံး စရိတ် - - အမေရိကန်ဒေါ်လာ ၆၂.၈၅ သန်း

(ဂ) အသားတင်အမြတ် - -အမေရိကန်ဒေါ်လာ ၃.၆၆ သန်း

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

ဝင်ငွေခွန် (၂၅%) အမေရိကန်ဒေါ်လာ ၁.၂၂ သန်း

ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၈၂သန်း

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ (၂၄) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တစ်ဘက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-



asia pacific mic memo

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြု လုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၉၂)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ဖော်ပြပါ မြေနေရာအား ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါ ကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှု မရှိစေရန် တင်ပြထားခြင်းကြောင့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှု အားခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်း စီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့ အတွက်ကနဦးပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Initial Enviromental Examination-IEE)ဆောင်ရွက်ပြီး အစီရင်ခံစာရေး ဆွဲတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်လာပါကပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental ImpactAssessment-EIA)ဆောင်ရွက်ရန်၊ အထက်ပါလေ့လာဆန်း စစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Enviromental Managemant Plan-



asia pacific mic memo

EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း ကောင်အထည် ဖော်ဆောင်ရွက်ရန် ဖြစ်ကြောင်း သဘောထား မှတ်ချက် ပြန်ကြား ထားပါသည်။

(ဂ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလွှာ တင်ပြချက်နှင့် စပ်လျဉ်း၍ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုကြောင်း၊မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်လျှောက်ထားဆောင်ရွက် ရန်လိုကြောင်း၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန၏ခွင့်ပြုချက်၊ ညွှန်ကြားချက် များနှင့်အညီဆောင်ရွက်ရန် လိုကြောင်း၊ အချိုရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချရာတွင် ကောင်းမွန်သော ထုတ်လုပ်မှုနည်းစဉ်(Good Manufacturing Practice-GMP)နှင့် အညီထုတ်လုပ်ရန် လိုကြောင်း၊ အချိုရည်ထုတ်လုပ်မှုများအား တန်ဖိုးသင့်၍ ဖက်စပ်အချိုး ထည့်ဝင်မည်ဖြစ်သော်လည်း ထပ်မံတင်သွင်းမည့် စက်ပစ္စည်းစာရင်း ဖော်ပြထားရန်လို ကြောင်း၊ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထွက်ရှိမှု စိစစ်နိုင်ရေးအတွက် ကုန်ကြမ်းလိုအပ်ချက် စာရင်းတွင်Unitများ ထည့်သွင်းဖော်ပြရန် လိုကြောင်း၊ Construction Year1တွင် ကုန်ကြမ်းလိုအပ်ချက်များ ထည့်သွင်း ထားခြင်း၊ ကုန်ချော ထွက်ရှိမှုတွင် Year1မှစ၍ ထွက်ရှိမှု ဖော်ပြထားခြင်း များမှာ သင့်လျော်မှု မရှိပါကြောင်း၊ ကုန်ကြမ်းလိုအပ်ချက်တွင် ပြည်တွင်းဝယ်ယူမှုနှင့် ပြည်ပမှ တင်သွင်းမှုခွဲခြား ဖော်ပြရန်လိုအပ်ပါကြောင်းနှင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားလာပါသည်။ (စက်မှုဝန်ကြီးဌာန၏ လမ်းညွှန်ချက်များအတိုင်း ပြန်လည်ပြင်ဆင်ပြီး ဖြစ်ပါသည်။) **နောက်ဆက်တွဲ-ဂ**

(ဃ) **ကျန်းမာရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအတွက် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဃ**

၁၂။ ငွေကြေးအထောက်အထားအဖြစ် Asia Pacific Beverages Pte.Ltd အမည်ဖြင့် United Overseas Bank(Singapore)တွင် ၁၆.၁၀.၂၀၁၄ရက်နေ့အထိအမေရိကန် ဒေါ်လာ ၂၂၀၀၀၆၉.၆၂၊ Asia Brewery Inc အမည်ဖြင့် Phillippine National Bank (Phillippine)တွင် ၇.၇.၂၀၀၈ ရက်နေ့အထိအမေရိကန်ဒေါ်လာ၀၀၃၃၉၁၆၇၈၄.၄၆၊ Myanmar Distribution Group Co.,Ltd အမည်ဖြင့် ၃၁.၈.၂၀၁၅ရက်နေ့အထိအမေရိကန်ဒေါ်လာ၁၀၇၅၀၈၁၆.၉၃ နှင့် Myanmar Distribution Group

Co.,Ltd အမည်ဖြင့် ၃၁.၈.၂၀၁၅ ရက်စွဲနေ့အထိ ရှိးမဘဏ်တွင် ကျပ်၇၇၃၀၉၈၃၂.၈၇ ရှိကြောင်း နှင့် Asia Pacific Beverages Myanmar Co., Ltd၏ MOA AOA မူကြမ်း၊ ပုံစံ၆၊ ပုံစံ၂၆ နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများအား တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်း မထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Corporate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထား ပါသည်။

၁၅။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများ နှင့် ပတ်သက်၍ သတ်မှတ် နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှု ကတိဝန်ခံချက်၊ ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း တိုးမြှင့်ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြု တင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ်မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များ ခံစားခွင့်ပြုပါရန်တင်ပြထားပါသည်။

၁၇။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၄ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၄၆ /၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၈။ အောက်ပါအတိုင်းစိစစ်တွေ့ရှိရပါသည်-

အဆိုပြုလုပ်ငန်းတွင် ဦးအောင်မော်သိန်းပိုင်ဆိုင်သော ၏အခွန်ဆိုင်ရာ စည်းကြပ်မှုနှင့် စပ်လျဉ်း၍ ၂၀၁၃-၂၀၁၄ စည်းကြပ်နှစ်တွင် ဝင်ငွေခွန် ကျပ်၄၄,၆၆၄,၂၁၇ ကို လည်းကောင်း၊ ၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်တွင် ဝင်ငွေခွန်ကျပ် ၆၂,၆၃၄,၃၇၇ ကို လည်းကောင်း၊ ၂၀၁၅-၂၀၁၆ စည်းကြပ်နှစ်တွင် ဝင်ငွေခွန် ကျပ်၁၀၅,၁၉၃,၀၀၀ ကိုလည်းကောင်း ပေးဆောင်ပြီးစီးကြောင်း အထောက်အထားများအား တင်ပြထားပါသည်။

ဆုံးဖြတ်ရန်အချက်

၁၉။ မြန်မာနိုင်ငံမှ ဦးအောင်မော်သိန်းမှ (၁၀%) နှင့် စင်ကာပူနိုင်ငံ မှ Asia Pacific Beverages Pte. Ltd.မှ (၉၀%) တို့ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Asia Pacific Beverages Myanmar Co., Ltd. တည်ထောင်ပြီး အမှတ်(၁၅၁)၊ ရန်ကုန်စက်မှုဇုန်ဝန်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးမှ မြေနှင့်အဆောက်အဦ စုစုပေါင်း ၁.၉၈ဖ၆ဧက (၈၀၃၇.၀၆စတုရန်းမီတာ) တို့ကို ငှားရမ်း၍ အရက်မဟုတ်သော အသင့်သောက်သုံးရန် အချိုရည်နှင့် ဖျော်ရည်များ ထုတ်လုပ်ခြင်း၊ ဈေးကွက်ရှာဖွေခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းအား ကနဦး (၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ်(၂)ကြိမ် ငှားရမ်း၍ နိုင်ငံခြားသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူ။

ရုံးလက်ခံ/မျှောစာတွဲ



asia pacific mic memo

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| 1။ | Asia Pacific Beverages Myanmar Co., Ltd. | (1) Michael Gonzales Tan<br>Managing Director<br>EC0229876 | 6/F Allied Bank Center 6754 Ayala Avenue Makati City, Metro Manila 1226 Philippines |
| | | (2) Hubert Lim Tan<br>Director<br>EB7529827 | 3 Ocamp Street Conthain Gardens, Quenzon City Philippines |
| | | (3) Ho Chung Yin Alan<br>Director<br>E3058014N | 50 Holland Road #04-09 Singapore 258853 |
| | | (4) U Aung Maw Thein<br>Director<br>12/Ma Ya Ka(Naing) | 16E, East Race Course Road, Tamwe Township , Yangon, Myanmar |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ဒေါ်အင်ကြင်း (တယ်လီဖုန်း၀၉-၄၂၁၁၀၂၀၈၉) |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးအောင်မော်သိန်း (ဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - အရက်မဟုတ်သော အသင့်သောက်သုံးရန် အချိုရည်နှင့် ဖျော်ရည်များ ထုတ်လုပ်ခြင်း၊ ဈေးကွက်ရှာဖွေခြင်း၊ ရောင်းချခြင်းနှင့်ဖြန့်ဖြူးခြင်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - ရိုးမဘဏ် |

နောက်ဆက်တွဲ-က

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်..၄..ဆ..စ..
ရက်စွဲ...၂...၂...၁၆
ရန်ကုန်တိုင်းဒေသကြီး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂ ရက်

TIC, 50 / 4/2 သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃. ၁၂. ၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၂/န-၁၄၀/၂၀၁၅(၉၉၆)

၁။ မြန်မာနိုင်ငံမှ ဦးအောင်မော်သိန်းမှ (၁၀%)နှင့် စင်ကာပူနိုင်ငံမှ Asia Pacific Beverages Pte. Ltd. မှ (၉၀%)တို့ အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Asia Pacific Beverages Myanmar Co., Ltd. တည်ထောင်ပြီး အမှတ်(၁၅၁)၊ ရန်ကုန်စက်မှုဇုန်ဝန်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးမှ မြေနှင့်အဆောက်အဦ စုစုပေါင်း ၁. ၉၈၆ ဧက (၈၀၃၇. ၀၆ စတုရန်းမီတာ)တို့ကိုငှားရမ်း၍ အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်ပလုပ်သားအင်အား(၁၀)ဦး၊ ပြည်တွင်းလုပ်သားအင်အား (၁၁၈)ဦး စုစုပေါင်း(၁၂၈)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် အမှတ်(၁၅၁)၊ ရန်ကုန်စက်မှုဇုန်ဝန်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးမှ မြေနှင့်အဆောက်အဦ စုစုပေါင်း ၁. ၉၈၆ ဧက (၈၀၃၇. ၀၆ စတုရန်းမီတာ)အား တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ (၂၂၈၆၉၀)နှုန်း (1sqft=2.64 $, 1sqm=28.45 $)နှုန်းဖြင့် ကနဦးနှစ်(၅၀)နှင့် တစ်ဆက်တည်း(၁၀)နှစ်(၂)ကြိမ်သက်တမ်းတိုး ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၈. ၁. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၉၈)အရ Asia Pacific Beverages Myanmar Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မြောက်ဥက္ကလာပမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Asia Pacific Beverages Myanmar Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/4.,(11)

MIC ၁ ၉၉ / 18/1

ရင်းနှီးမြုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/ ၀၁(၁၁/၁၆)
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Asia Pacific Berverages Pte. Ltd မှအချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၄၀/ ၂၀၁၅(၁၀၀၄)

၁။ မြန်မာနိုင်ငံမှဦးအောင်မော်သိန်းမှ(၁၀%)နှင့်စင်္ကာပူနိုင်ငံမှAsia Pacific Berverages Pte. Ltd. မှ(၉၀%)တို့ အစုရှယ်ယာများထည့်ဝင်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Asia Pacific Berverages Pte. Ltd တည်ထောင်ပြီးအမှတ်(၁၅၁)၊ ရန်ကုန်စက်မှုဇုန်ဝန်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးမှ မြေနှင့်အဆောက်အဦးစုစုပေါင်း၁.၉၈၆ဧက(၈၀၃၆.၉၀၇စတုရန်းမီတာ)ကိုငှားရမ်း၍ အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအားဆောင် ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ တင်ပြလာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ်ဖြစ်ပြီး(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်မှုကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ ထုတ်လုပ်မှုအနေဖြင့်အချိုရည်အမျိုးအစား(၅)မျိုးအားပထမနှစ်အတွင်း စုစုပေါင်း ၅၂၈၉၀၀၇ casese နှင့်(၁၅)နှစ်အတွင်း ၂၉၂၀၃၀၆၃ casese ထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ မီးဘေးလုံခြုံစိတ်ချရေးနှင့်လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေမှ(၂%)အား လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility - CSR )လုပ်ငန်းများတွင်

အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍ မြန်မာနိုင်ငံ၏ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေများနှင့် နိုင်ငံတကာပတ်ဝန်းကျင်ထိန်းသိမ်းရေးစံချိန်စံညွှန်းများနှင့်အညီ လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာကြည့်ရှုမည့်အစီအစဉ်များထည့်သွင်းစောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပါအချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ခြင်းကြောင့်ထွက်ရှိလာသည့် စွန့်ပစ်အရည်များကြောင့် ရေထုညစ်ညမ်းခြင်း၊ ထွက်ရှိလာသောအနံ့ဆိုးများကြောင့် စက်ရုံဝန်ထမ်းများနှင့် စက်ရုံအနီးပတ်ဝန်းကျင်ရှိပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေခြင်း၊ စက်ရုံမှထုတ်လွှတ်သည့် အခိုးအငွေ့များတွင် အဆုတ်နှင့်အသက်ရှူလမ်းကြောင်း ထိခိုက်စေနိုင်သော အလွန်သေးငယ်သည့် အမှုန်အမွှားများ(PM-10)ကျပ်ခိုးနှင့် ကာဗွန်မိုနောက်ဆိုဒ်(CO)များပါဝင်မှုတို့ကြောင့် လေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Asia Pacific Berverages Pte. Ltd မှ အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility – CSR) အတွက်အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်)အနည်းဆုံးဖြစ်စေရေးတို့အတွက်ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်း

စစ်ခြင်း ( **Initial Environmental Examination - IEE** ) ဆောင်ရွက်ပြီး အစီရင်ခံစာရေးဆွဲတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်လာပါက ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း ( **Environmental Impact Assessment-EIA** ) ဆောင်ရွက်ရန်။

( ဂ ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံး စွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( **Environmental Manangement Plan – EMP** ) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့် သ ဘောထားရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီး၊
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၃၅၃၀)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်

သို့
✓ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂ / န-၁၄၀/ ၂၀၁၅ (၉၉၇)

၁။ Asia Pacific Beverages Myanmar Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်ဝန်း၊ အမှတ်(၁၅၁) တွင် အချိုရည်ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အချိုရည်ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ခွင့်ပြုချက်၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချရာတွင် ကောင်းမွန်သော ထုတ်လုပ်မှုနည်းစဉ်(Good Manufacturing Practice-GMP)နှင့် အညီ ထုတ်လုပ်ရန် လိုအပ် ပါသည်။

(ဆ) အချိုရည်ထုတ်လုပ်မှုများအား တန်ဖိုးသင့်၍ ဖက်စပ်အချိုး ထည့်ဝင်မည်ဖြစ်သော်လည်း ထပ်မံတင်သွင်းမည့် စက်ပစ္စည်းစာရင်း ဖော်ပြထားခြင်း မရှိပါ။

(ဇ) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထွက်ရှိမှု စိစစ်နိုင်ရေးအတွက် ကုန်ကြမ်းလိုအပ်ချက်စာရင်းတွင် Unit များ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။

(ဈ) Construction Year တွင် ကုန်ကြမ်းလိုအပ်ချက်များ ထည့်သွင်းထားခြင်း၊ ကုန်ချောထွက်ရှိမှုတွင် Year 1 မှစ၍ ထွက်ရှိမှု ဖော်ပြထားခြင်းများမှာ သင့်လျော်မှု မရှိပါ။

(ည) ကုန်ကြမ်းလိုအပ်ချက်တွင် ပြည်တွင်းဝယ်ယူမှုနှင့် ပြည်ပမှတင်သွင်းမှု ခွဲခြားဖော်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Asia Pacific Beverages Myanmar Co.,Ltd. မှ အချိုရည်ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၁.၁.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၈မခ(က)၂၀၁၆/ ၉၆၃

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ( ၂၁ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃-၁၂-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက ၂/န-၁၄၀/၂၀၁၅(၉၉၅)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Asia Pacific Beverages Myanmar Co., Ltd. တည်ထောင်ပြီ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်ဝင်း၊ အမှတ်(၁၅၁)၌ မြေနှင့်အဆောက် အဦငှားရမ်း၍ အချိုရည်ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ပ သဖြင့် အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက် ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန အနေဖြင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ် ချက် ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန